ကုမ္ပဏီအမည် - Wilmar Myanmar Logistics Limited

လုပ်ငန်း - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Construction and Operation of storage tanks, terminals, warehouses and other storage facilities for edible oils and its related products (စားသုံးဆီများနှင့် ၎င်း၏ဆက်စပ်ထုတ်ကုန်များအတွက် သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန် သိုလှောင်ရုံများ၊ ကုန်စည်သိုလှောင်ရုံများနှင့် အခြားသော သိုလှောင်မှုအထောက်အပံ့များကို ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း)လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၅-၄-၂၀၁၇ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး၁၁/၂၀၁၇သို့ တင်ပြခြင်း | ၁၀-၄-၂၀၁၇ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၂၅-၄-၂၀၁၇ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၆-၄-၂၀၁၇ | ၈-၅-၂၀၁၇ | |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များ အရပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၉-၅-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၁၂-၆-၂၀၁၇ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၉/၂၀၁၇)MIC | ၁၆-၆-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၇၀ ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | **Wilmar Myanmar Logistics Limited** |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | Construction and Operation of storage tanks, terminals, warehouses and other storage facilities for edible oils and its related products (စားသုံးဆီများနှင့် ၎င်း၏ ဆက်စပ်ထုတ်ကုန်များအတွက်သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန်သိုလှောင်ရုံများ၊ ကုန်စည် သိုလှောင်ရုံများနှင့် အခြားသော သိုလှောင်မှုအထောက်အပံ့ကို ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း) |
| တည်နေရာ | ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် ၂၀ နှင့် ၂၁ အပြင် ၂၁ နှင့် ၂၂ ကြားရှိ မြေဧရိယာ ၆.၆၂၂ ဧက (၂၆,၈၀၀ စတုရန်း မီတာ) |
| စုစုပေါင်းမတည်ငွေရင်း | အမေရိကန်ဒေါ်လာ ၆.၉၉၇ သန်း |
| လုပ်ငန်းသက်တမ်း | ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ်) |
| တည်ဆောက်ရေးကာလ | ၁၂ လ |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကိုအောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀သန်း(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၅၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၂၀၅.၀၆ သန်း | - |
| ၄ | ဝင်ငွေခွန် | - | ကျပ် ၅၅၇.၈၆ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၇.၅၀ သန်း<br>တစ်နှစ်ဝင်ငွေကျပ် သိန်း(၄၈) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၂၃) ဦး |
| ၈ | CSR(၁%) | - | ကျပ် ၄.၁၈ သန်း |
| ၉ | မြေငှားရမ်းခငွေ/ပရီမီယံကြေး | - | ကျပ် ၆၆၀.၇၈ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်းလုပ်သား (၂၈)ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့် အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုကို အထောက် အကူပြုစေပါသည်။ |
| | | **ကျပ် ၂၀၈.၀၆ သန်း** | **ကျပ် ၁,၂၃၀.၈၂ သန်း** |
| | | ၁ : ၆ | |

Wilmar Myanmar Logistics Limited မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Construction and Operation of storage tanks, terminals, warehouses and other storage facilities for edible oils and its related products (စားသုံးဆီများနှင့် ၄င်း၏ဆက်စပ်ထုတ်ကုန်များအတွက် သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန် သိုလှောင် ရုံများ၊ ကုန်စည်သိုလှောင်ရုံများနှင့် အခြားသော သိုလှောင်မှု အထောက် အပံ့များကို ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း) လုပ်ငန်းအား

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Wilmar Myanmar Logistics Limited | Construction and Operation of storage tanks, terminals, warehouses and other storage facilities | ၁၁/၂၀၁၇ (၁၀-၄-၂၀၁၇) | (က)B.O.T စာချုပ်ပါ မူလ လုပ်ငန်းအမျိုးအစားတွင် ပြင်ဆင်ဖြည့်စွက်၍ ပို့ဆောင်ရေးနှင့်ဆက် သွယ်ရေးဝန်ကြီးဌာန မှတဆင့်တင်ပြရန်။<br>(ခ) မြေငှားစာချုပ်(မူကြမ်း) ပါ Singapore Arbitration Law အစား Arbitration Law 2016 ဟု ပြင်ဆင်ပေးရန်။ | ကုမ္ပဏီမှ ပို့ဆောင်ရေး နှင့်ဆက် သွယ်ရေး ဝန်ကြီးဌာန သို့B.O.T စာ ချုပ်(မူကြမ်း) တင်ပြထား ကြောင်း တင်ပြထားပါ သည်။<br>ပြင်ဆင်ပြီး ဖြစ်ပါသည်။ | |

**ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း**

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Wilmar Myanmar Logistics Limited | (၁) Mr. Thomas Joseph Lim Kim Guan (Lin Qinyuan)<br>Director<br>Singapore<br>E4564161 | c/o 56 Neil Road, Singapore 088830 |
| | | (၂) ဦးမြင့်မော်<br>ဒါရိုက်တာ<br>မြန်မာ<br>၁၂/ပဗတ(နိုင်)၀၂၃၆၉၁ | အမှတ်-၄၀၃၊ ခရေမြိုင်လမ်း၊ ၂၃ ရပ်ကွက်၊ သုဝဏ္ဏ၊သဃ်န်းကျွန်း မြို့နယ်၊ ရန်ကုန်မြို့ |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉- ၇၃၁၂၇၉၃၂

၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - အမှတ်-၄၀၃၊ ခရေမြိုင်လမ်း၊ ၂၃ ရပ်ကွက်၊ သုဝဏ္ဏ၊သဃ်န်းကျွန်း မြို့နယ်၊ ရန်ကုန်မြို့

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးမြင့်မော် (ဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Construction and Operation of storage tanks, terminals, warehouses and other storage facilities for edible oils and its related products (စားသုံးဆီများနှင့် ၎င်း၏ ဆက်စပ်ထုတ်ကုန်များအတွက် သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန် သိုလှောင်ရုံများ၊ ကုန်စည် သိုလှောင်ရုံများ နှင့် အခြားသော သိုလှောင်မှုအထောက်အပံ့ကို ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်းလုပ်ငန်း)

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

Wilmar Myanmar Logistics Limited မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Wilmar Myanmar Logistics Limited မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Construction and Operation of storage tanks, terminals, warehouses and other storage facilities for edible oils and its related products (စားသုံးဆီများနှင့် ၎င်း၏ဆက်စပ်ထုတ်ကုန်များအတွက် သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန် သိုလှောင် ရုံများ၊ ကုန်စည်သိုလှောင်ရုံများနှင့် အခြားသော သိုလှောင်မှု အထောက် အပံ့များကို ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း)လုပ်ငန်းနှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Wilmar Myanmar Logistics Limited<br>- Mr. Thomas Joseph Lim Kim Guan (Lin Qinyuan) |
| ၂။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- စင်ကာပူနိုင်ငံ Wilmar Investment Holding Pte. Ltd. မှ ၈၀ %<br>မြန်မာနိုင်ငံ Value Supplies Co., Ltd. မှ ၂၀% |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - Construction and Operation of storage tanks, terminals, warehouses and other storage facilities for edible oils and its related products (စားသုံးဆီများနှင့် ၎င်း၏ ဆက်စပ်ထုတ်ကုန်များ အတွက်သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန်သိုလှောင်ရုံများ၊ ကုန်စည် သိုလှောင်ရုံများနှင့် အခြားသောသိုလှောင်မှုအထောက်အပံ့ကို ဆောက်လုပ်ခြင်းနှင့်လုပ်ငန်းလည်ပတ်ခြင်းလုပ်ငန်း) |
| ၄။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် ၂၀ နှင့် ၂၁ အပြင် ၂၁ နှင့် ၂၂ ကြားရှိ မြေဧရိယာ ၆.၆၂၂ ဧက (၂၆,၈၀၀ စတုရန်းမီတာ) |
| ၅။ | မြေပိုင်ရှင် | - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်<br>- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ Wilmar Myanmar Port Terminals (Thilawa) Limited အား BOT စနစ်ဖြင့်ငှားရမ်းထားသည့်မြေ ပေါ်တွင် Wilmar Myanmar Logistics Limited မှ ထပ်ဆင့် ငှားရမ်း ဆောင်ရွက်ခြင်းဖြစ်ပါသည်။ |
| ၆။ | နှစ်စဉ်မြေငှားရမ်းခ | - အမေရိကန်ဒေါ်လာ ၁၃၄,၀၀၀<br>- တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၅.၀၀ နှုန်း |
| ၇။ | မြေငှားစာချုပ်သက်တမ်း | - ကနဦး နှစ် ၅၀ (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၈။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၆.၉၉၇ သန်း |
| | | **နိုင်ငံခြား** US$ (သန်း) / **မြန်မာ** (US$သန်း) / **စုစုပေါင်း** (US$သန်း) |
| | ငွေသား | ၁.၆၇၉ / ၀.၄၂၀ / ၂.၀၉၉ |
| | ချေးငွေ (Onshore) | - / - / ၄.၈၉၈ |
| | **စုစုပေါင်း** | ၆.၉၉၇ |
| ၉။ | တည်ဆောက်ရေးကာလ | - ၁၂ လ |

| | | |
|---|---|---|
| ၁၀။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ်) |
| ၁၁။ | ဝန်ဆောင်ခနှုန်း<br>(ဆဋ္ဌမမြောက်နှစ်) | Type of Services / Metric Ton (MT) / Price per MT Handled(USD)<br>Liquid Throughput at Port / ၃၅၆,၅၉၀ / ၂.၅၀<br>Volume at Consumer Pack Plant (MT) / ၁၁၉,၅၉၀ / ၂.၅၀<br>Volume at Bulk Oil Plant (MT) / ၂၃၇,၀၀၀ / ၂.၅၀ |
| ၁၂။ | ဝင်ငွေ(ဆဋ္ဌမမြောက်နှစ်)<br>အသုံးစရိတ်(ဆဋ္ဌမမြောက်နှစ်)<br>အသားတင်အမြတ်(ဆဋ္ဌမမြောက်နှစ်) | US$ ၀.၈၉၁ သန်း<br>US$ ၀.၈၁၄ သန်း<br>US$ ၀.၀၇၇ သန်း |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့်<br>အကျိုးအမြတ်(ဆဋ္ဌမမြောက်နှစ်)<br>ဝင်ငွေခွန် | US$ ၀.၀၂၆ သန်း |
| ၁၆။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br>ပြည်ပ | - ၂၈ ဦး<br>၂၈ ဦး (တစ်လလျှင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၆၄,၄၀၀ ၊ အမြင့်ဆုံးလစာမှာ ကျပ် ၈,၂၂၀,၀၀၀ ဖြစ်ပါသည်။)<br>ခန့်ထားခြင်းမရှိပါ။ |
| ၁၇။ | အရင်းကြေကာလ<br>အရင်းအနှီးပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | ၂၇ နှစ် ၂ လ<br>၁.၇၄ % |
| ၁၈။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ်(ကမာရွတ်) ၌ Value Supplies Co., Ltd. အမည်ဖြင့် (၃၀-၃-၂၀၁၇) ရက်နေ့ တွင် ကျပ် ၁၀,၁၀၄,၉၃၈.၅၁ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု<br>(တစ်နှစ်လျှင်) | - ၉၆၀,၀၀၀ kWh |
| ၂၀။ | CSR အစီအစဉ် | - ကုမ္ပဏီ၏ နှစ်စဉ်ရရှိသော အမြတ်ငွေမှ ၁ % အား လူမှုရေး တာဝန်ယူမှုပူးပေါင်း ဆောင်ရွက်မှု ရန်ပုံငွေအဖြစ် ထားရှိမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၂၁။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု<br>အစီအစဉ် | - Wilmar Investment Holdings Pte. Ltd. မှ Integrated Agriculture Processing Facilities and Associated Office Building လုပ်ငန်းအတွက် ရေးဆွဲထားသည့် ESIA အစီရင်ခံစာကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၂၂။ | မီးဘေးကာကွယ်ရေးစီမံချက် | - မီးဘေးကာကွယ်ရေးစီမံချက် ရေးဆွဲတင်ပြထားပါသည်။ |
| ၂၃။ | အခြားတင်ပြချက်များ | (က) အဆိုပြုချက်နှင့်အတူ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Wilmar Myanmar Port Terminals (Thilawa) Ltd. တို့ကြားချုပ်ဆိုထားသည့် B.O.T စာချုပ်နှင့် မြေငှားစာချုပ်၊ Wilmar Myanmar Port Terminals (Thilawa) Ltd. နှင့် Wilmar Myanmar Logistics Ltd. တို့ကြားချုပ်ဆိုမည့် ထပ်ဆင့် ငှားရမ်းခြင်းစာချုပ် (မူကြမ်း)၊ Wilmar Myanmar Port Terminals (Thilawa) Ltd. ၊ Value Supplies Co., Ltd. နှင့် Wilmar Myanmar Logistics Ltd. တို့ချုပ်ဆိုမည့် JV စာချုပ်(မူကြမ်း)၊ MOA ၊AOA(မူကြမ်း) နှင့် ဒါရိုက်တာစာရင်း နှင့်တို့အား တင်ပြထားပါသည်။<br>(ခ) Wilmar Myanmar Port Terminals (Thilawa) Ltd. နှင့် Wilmar Myanmar Logistics Ltd. တို့ကြားချုပ်ဆိုမည့် ၅၀ နှစ် သက်တမ်းရှိ မြေထပ်ဆင့်ငှားရမ်းခြင်းစာချုပ် (မူကြမ်း) အရ မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၁၃၄,၀၀၀ (တစ် စတုရန်းမီတာလျှင် တစ်နှစ် အမေရိကန် ဒေါ်လာ ၅.၀၀) ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၂၄။ | စိစစ်တင်ပြချက် | (က) Wilmar Myanmar Port Terminals (Thilawa) Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ခေတ်မီဘက်စုံသုံး နိုင်ငံတကာ ဆိပ်ခံတံတားနှင့် မြေဖွံ့ဖြိုးရေး လုပ်ငန်းများကို B.O.Tစနစ်ဖြင့် ဆောင်ရွက်ခြင်း စီးပွားရေးဆိုင်ရာ လုပ်ငန်းဆောင်တာများ (ဓာတ်မြေဩဇာစက်ရုံ၊ ဂျုံစက်၊ ဆီကြိတ်ခွဲခြင်း၊ ဆန် အပါအဝင် ကောက်ပဲသီးနှံများ ကြိတ်ခွဲ ခြင်း၊ စားသုံးဆီအမျိုးမျိုး၊ ဆီအမျိုးမျိုး၊ သကြားစသည့် ကုန်ပစ္စည်းများပြုပြင်ထုတ်လုပ်ခြင်းနှင့် ထုတ်ပိုးခြင်း လုပ်ငန်း) အတွက် ရင်းနှီးမြှုပ်နှံသူ အား ထပ်ဆင့်မြေ ငှားရမ်း၍ လုပ်ငန်းများ ဆောင်ရွက်ခြင်းလုပ်ငန်းကို ကော်မရှင်ခွင့်ပြုမိန့်အမှတ် (၇၂၈/၂၀၁၄)(၁၈-၁၂-၂၀၁၄)ဖြင့် လုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။<br>(ခ) ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းအား ကော်မရှင်ခွင့်ပြုမိန့်ရရှိထားသော Wilmar Myanmar Port Terminals (Thilawa) Ltd. ၏ သီလဝါ ဆိပ်ကမ်းဒေသ မြေကွက်အမှတ် ၂၀၊ ၂၁ အပြင် ၂၁ နှင့် ၂၂ ကြား သီလဝါဆိပ်ကမ်းမြေရှိ ၁၀၀.၁၃၁ ဧကတွင် ဆောင်ရွက်မည်ဖြစ်ပါသည်။<br>(ဂ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဝန်ကြီးဌာနမှ EIA ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ပုဒ်မ ၃၆ အရ ခွင့်ပြုမိန့်ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှု အမျိုးအစားဖြစ်ပါသည်။<br>(ဃ) warehouse၊ Silos နှင့် လှောင်ကန်များ တည်ဆောက်၍ ငှားရမ်း |

| | | |
|---|---|---|
| | | ခြင်းဝန်ဆောင်မှုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍစာရင်းတွင်ပါဝင်ပါသည်။ ရန်ကုန်တိုင်းဒေသကြီး၊ အရှေ့ပိုင်းခရိုင်၊ သံလျင်မြို့နယ်တွင် အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်၍ ဇုန်(၂) တွင် ပါဝင်ပါသည်။ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခံစားနိုင်မည်ဖြစ် ပါသည်။<br>(င) ကုမ္ပဏီအနေဖြင့် ၂၄,၀၀၀ မက်ထရစ်တန်ရှိ စားသုံးဆီသို လှောင်ကန်ကို တည်ဆောက်၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။<br>(စ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်ပမှ အမေရိကန်ဒေါ်လာ ၃,၁၅၄,၇၈၀ တန်ဖိုးရှိ ဆောက်လုပ်ရေးသုံး ပစ္စည်းများ၊ ယာဉ်ယန္တရားနှင့် စက်ပစ္စည်း ကိရိယာများကို တင်သွင်းမည် ဖြစ်ပါသည်။<br>(ဆ) ဝင်ငွေ၊ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် နှင့် အရင်းအနှီးအပေါ်အကျိုးပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/န-၀၃၉/၂၀၁၇( ၂၇၃ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇွန် လ ၁၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Wilmar Myanmar Logistics Limited မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Construction and Operation of storage tanks, terminals, warehouses and other storage facilities for edible oils and its related products (စားသုံးဆီများနှင့် ၎င်း၏ဆက်စပ်ထုတ်ကုန်များအတွက် သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန် သိုလှောင်ရုံများ၊ ကုန်စည်သိုလှောင်ရုံများနှင့် အခြားသော သိုလှောင်မှု အထောက် အပံ့များကို ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း) လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံ Wilmar Investment Holding Pte. Ltd. မှ ၈၀ % နှင့် မြန်မာနိုင်ငံ Value Supplies Co., Ltd. မှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Wilmar Myanmar Logistics Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် ၂၀ နှင့် ၂၁ အပြင် ၂၁ နှင့် ၂၂ ကြားရှိ မြေဧရိယာ ၆.၆၂၂ ဧက (၂၆,၈၀၀ စတုရန်းမီတာ) တွင် ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Construction and Operation of storage tanks, terminals, warehouses and other storage facilities for edible oils and its related products (စားသုံးဆီများနှင့် ၎င်း၏ဆက်စပ်ထုတ်ကုန်များအတွက် သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန် သိုလှောင်ရုံများ၊ ကုန်စည်သိုလှောင်ရုံများနှင့် အခြားသော သိုလှောင်မှု အထောက်အပံ့များကို ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း) လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Wilmar Myanmar Port Terminals (Thilawa) Ltd. တို့ကြားချုပ်ဆိုထားသည့် B.O.T စာချုပ် နှင့် မြေငှားစာချုပ်၊ Wilmar Myanmar Port Terminals (Thilawa) Ltd. နှင့် Wilmar Myanmar Logistics Ltd. တို့ကြားချုပ်ဆိုမည့် ထပ်ဆင့် ငှားရမ်းခြင်းစာချုပ် (မူကြမ်း)၊ Wilmar Myanmar Port Terminals (Thilawa) Ltd. ၊ Value Supplies Co., Ltd. နှင့် Wilmar Myanmar Logistics Ltd. တို့ချုပ်ဆိုမည့် JV စာချုပ်(မူကြမ်း)၊ MOA ၊AOA(မူကြမ်း) နှင့် ဒါရိုက်တာစာရင်းတို့အား တင်ပြထားပါသည်။

၃။ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး (၅၀)နှစ် ဖြစ်ပြီး (၁၀)နှစ်တစ်ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၁၂ လ ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၆.၉၉၇ သန်းဖြစ်ပြီး မတည်ငွေရင်းထည့်ဝင်မှုအခြေအနေမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | | နိုင်ငံခြား (US$ သန်း) | မြန်မာ (US$ သန်း) | စုစုပေါင်း(US$ သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၁.၆၇၉ | ၀.၄၂၀ | ၂.၀၉၉ |
| (ခ) | ချေးငွေ(Onshore) | - | - | ၄.၈၉၈ |
| | **စုစုပေါင်း** | ၁.၆၇၉ | ၀.၄၂၀ | **၆.၉၉၇** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၂၈) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်၍ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၆၄,၄၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၈,၂၂၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းခန့်ထားခြင်းမရှိကြောင်းတင်ပြထားပါသည်။

၆။ ကုမ္ပဏီအနေဖြင့် ၂၄,၀၀၀ မက်ထရစ်တန်ရှိ စားသုံးဆီသိုလှောင်ကန်ကို တည်ဆောက်၍ အဆိုပြု လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ် (ဆဋ္ဌမနှစ်) တွင်ဝန်ဆောင်မှုပေးမည့် လုပ်ငန်းအမျိုးအစားနှင့် ဝန်ဆောင်ခနှုန်း (US$) တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| Type of Services | Metric Ton (MT) | Price per MT Handled (US$) |
|---|---|---|
| Liquid Throughput at Port | ၃၅၆,၅၉၀ | ၂.၅၀ |
| Volume at Consumer Pack Plant(MT) | ၁၁၉,၅၉၀ | ၂.၅၀ |
| Volume at Bulk Oil Plant (MT) | ၂၃၇,၀၀၀ | ၂.၅၀ |

၇။ ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ်(ကမာရွတ်) ၌ Value Supplies Co., Ltd. အမည်ဖြင့် (၃၀-၃-၂၀၁၇) ရက်နေ့တွင် ကျပ် ၁၀,၁၀၄,၉၃၈.၅၁ ရှိကြောင်း တင်ပြထားပါသည်။

၈။ ခန့်ထားမည့်ဝန်ထမ်းများ နှင့်ပတ်သက်၍ လုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိမှု ဆောင်ရွက်မည့်အစီအမံများ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်မည့်အစီအမံ၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှုအစီအမံတို့ကိုတင်ပြထားပြီး လူမှုဘဝသာယာဝပြောရေး (Corporate Social Responsibility -CSR)အတွက် အသားတင်အမြတ်၏ ၁ % အားအသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၉။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဧပြီ လ ၁၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၁၁/၂၀၁၇) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ EIA ဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြုထားပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ပုဒ်မ (၃၆)အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသည် ကော်မရှင်ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာသည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ Wilmar Myanmar Port Terminals (Thilawa) Ltd. အား B.O.T စနစ်ဖြင့် နှစ် (၅၀)မြေငှားရမ်းထားသည့် ဧရိယာ ၁၀၀.၁၃၁ ဧကအနက် ၆.၆၂၂ ဧကအား Wilmar Myanmar Logistics Limited မှ ထပ်ဆင့်ငှားရမ်းဆောင်ရွက်ခြင်းဖြစ်ပါသည်။

(ဂ) Wilmar Myanmar Port Terminals (Thilawa) Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ခေတ်မီဘက်စုံသုံး နိုင်ငံတကာ ဆိပ်ခံတံတားနှင့် မြေဖွံ့ဖြိုးရေး လုပ်ငန်းများကို B.O.T

စနစ်ဖြင့် ဆောင်ရွက်ခြင်း စီးပွားရေးဆိုင်ရာ လုပ်ငန်းဆောင်တာများ (ဓာတ်မြေသြဇာစက်ရုံ၊ ဂျုံစက်၊ ဆီကြိတ်ခွဲခြင်း၊ ဆန် အပါအဝင် ကောက်ပဲသီးနှံများ ကြိတ်ခွဲခြင်း၊ စားသုံးဆီအမျိုးမျိုး၊ ဆီအမျိုးမျိုး၊ သကြား စသည့် ကုန်ပစ္စည်းများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ထုတ်ပိုးခြင်းလုပ်ငန်း) အတွက် ရင်းနှီးမြှုပ်နှံသူအား ထပ်ဆင့်မြေ ငှားရမ်း၍ လုပ်ငန်းများ ဆောင်ရွက်ခြင်းလုပ်ငန်းကို ကော်မရှင် ခွင့်ပြုမိန့်အမှတ် (၇၂၉/၂၀၁၄)(၁၈-၁၂-၂၀၁၄)ဖြင့်လုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။

(ဃ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဝန်ကြီးဌာနမှ EIA ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ပုဒ်မ ၃၆ အရ ခွင့်ပြုမိန့်ရယူ ရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှု အမျိုးအစားဖြစ်ပါသည်။

(င) warehouse၊ Silos နှင့် လှောင်ကန်များ တည်ဆောက်၍ ငှားရမ်း ခြင်းဝန်ဆောင်မှုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍစာရင်းတွင်ပါဝင်ပါသည်။ ရန်ကုန်တိုင်းဒေသကြီး၊ အရှေ့ပိုင်း ခရိုင်၊ သံလျင်မြို့နယ်တွင် အကောင်အထည်ဖော် ဆောင်ရွက်မည် ဖြစ်၍ ဇုန်(၂) တွင် ပါဝင်ပါသည်။ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခံစားနိုင်မည်ဖြစ် ပါသည်။

(စ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်ပမှ အမေရိကန် ဒေါ်လာ ၃,၁၅၄,၇၈၀ တန်ဖိုးရှိ ဆောက်လုပ်ရေးသုံး ပစ္စည်းများ၊ ယာဉ်ယန္တရားနှင့် စက်ပစ္စည်း ကိရိယာများကို တင်သွင်းမည် ဖြစ်ပါသည်။ အခွန်ကင်းလွတ်ခွင့်သက်သာခွင့်လျှော့ထားနိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ Wilmar Myanmar Logistics Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Construction and Operation of storage tanks, terminals, warehouses and other storage facilities (စားသုံးဆီများနှင့် ၄င်း၏ ဆက်စပ်ထုတ်ကုန်များအတွက် သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန် သိုလှောင်ရုံများ၊ ကုန်စည် သိုလှောင်ရုံများနှင့် အခြားသော သိုလှောင်မှုအထောက်အပံ့ကို ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း လုပ်ငန်း) လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက် တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

M4-0339
8.5.17



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁(၁၂၀/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မေလ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Wilmar Myanamar Logistics Limited မှ Construction and Operation of storage tanks, terminals, warehouses and other storage facilities for edible oils and its related products လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၄-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ န-၀၃၉/ ၂၀၁၇ (၁၇၇)

၁။ စင်ကာပူနိုင်ငံ Wilmar Investment Holding Pte. Ltd. မှ ၈၀% နှင့် မြန်မာနိုင်ငံ Value Supplies Co., Ltd. မှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Wilmar Myanmar Logistics Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် ၂၀ နှင့် ၂၁ အပြင် ၂၁ နှင့် ၂၂ ကြားရှိ မြေဧရိယာ ၆.၆၂၂ ဧက (၂၆,၈၀၀ စတုရန်းမီတာ) တွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Construction and Operation of storage tanks, terminals, warehouses and other storage facilities for edible oils and its related products (စားသုံးဆီများနှင့် ၎င်းနှင့်ဆက်စပ်ထုတ်ကုန်များအတွက် သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန် သိုလှောင်ရုံများ၊ ကုန်စည်သိုလှောင်ရုံများနှင့်အခြားသောသိုလှောင်မှု အထောက်အပံ့များကိုဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း) လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ တည်ဆောက်ရေးကာလမှာ (၁၂) လဖြစ်ကြောင်း၊

(ခ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) လုပ်ငန်းမှနှစ်စဉ်ရရှိလာမည့်အမြတ်ငွေ၏ (၂%) ကိုလူမှုရေးဆိုင်ရာ ထောက်ပံ့ကူညီပေးမှုအဖြစ် ပညာရေးနှင့်ကျန်းမာရေးဆိုင်ရာ ကူညီမှုများဆောင်ရွက်ပေးသွားမည်ဖြစ်ပြီး ၂၀၁၃

ခုနှစ်မှ ယခုအချိန်အထိ မျက်စိစစ်ဆေးမှုပေါင်း (၃,၀၇၃) ဦးနှင့် ကုသပေးမှုပေါင်း (၄၃၂) ဦးတို့ကို ဆောင်ရွက်ပေးခဲ့ပြီးဖြစ်ကာ ဆက်လက်ပြီးဆောင်ရွက်ပေးသွားမည် ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

(ဃ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် ၂၀ နှင့် ၂၁ အပြင် ၂၁ နှင့် ၂၂ ကြားရှိ မြေဧရိယာ ၆.၆၂ ဧက (၂၆,၈၀၀ စတုရန်းမီတာ) ပေါ်အဆိုပြုလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရေးအတွက်စီမံဆောင်ရွက်နိုင်ရန် ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment-ESIA) ကို Myanmar Koei International Co., Ltd (MKI) အဖွဲ့ ဖြင့်ရေးဆွဲဆောင်ရွက်နေပြီဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Wilmar Investment Holding Pte. Ltd. မှ လုပ်ငန်းများ တည်ဆောက်လည်ပတ်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်းလေ့လာသုံးသပ်ရပါသည် -

(က) အဆိုပြု Wilmar Investment Holding Pte. Ltd. မှ စားသုံးဆီများနှင့် ၎င်းနှင့်ဆက်စပ်ထုတ်ကုန် များအတွက် သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန် သိုလှောင်ရုံများ၊ ကုန်စည်သိုလှောင်ရုံများနှင့် အခြားသောသိုလှောင်မှု အထောက်အပံ့များကို ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ဆောင်ရွက်ရာတွင် မြေနေရာရှင်းလင်းခြင်း၊ တူးဖော်ရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ လုပ်ငန်းသုံးယာဉ်ယန္တရားများမှ အခိုးအငွေ့များထုတ်လွှတ်ခြင်းနှင့် အသံဆူညံမှုနှင့် ပတ်ဝန်းကျင်ထိခိုက်မှု ဖြစ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးကာလအတွင်း အလုပ်သမားများမှ စွန့်ပစ်ပစ္စည်း အရည်/အစိုင်အခဲများ စွန့်ပစ်ခြင်းနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ စက်သုံးဆီတင်/ချ ဆိပ်ကမ်းနှင့် စက်သုံးဆီသိုလှောင်ကန်များတည်ဆောက်ခြင်း၊ စက်သုံးဆီများသယ်ယူခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းအဆင့်ဆင့်ဆောင်ရွက်ရာတွင် စွန့်ပစ်အရည်၊ စွန့်ပစ်ပစ္စည်းများနှင့် မတော်တဆယိုဖိတ်မှုများကြောင့်ပတ်ဝန်းကျင်နှင့် လူမှုကျန်းမာရေးထိခိုက်နိုင်မှုများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Wilmar Investment Holding Pte. Ltd. မှ စားသုံးဆီများနှင့် ၎င်းနှင့်ဆက်စပ်ထုတ်ကုန်များအတွက် သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန် သိုလှောင်ရုံများ၊ ကုန်စည်သိုလှောင်ရုံများနှင့် အခြားသောသိုလှောင်မှု အထောက်အပံ့များကိုဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၁% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း

